



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ်၊ မနသ- ၉၈၀ /၂၀၁၄ ။ ၂၀၁၄ ခုနှစ်၊ မေလ ၂၈ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးထွန်းထွန်းဝင်း (ခ) ဗီနိုကူးမား

(ခ) **အဘအမည်** ဦးချန်ဒရားဒေးပရာကပ်ရှ်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ပဘတ(နိုင်) ၀၀၃၁၇၅

(ဃ) **နေရပ်လိပ်စာ** အမှတ်(၇၁၅)၊ ဒုတိယထပ်၊ ကုန်သည်လမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့။

(င) **ဖွဲ့စည်းထားသည့်သို့မဟုတ်ဖွဲ့စည်းမည့်အဖွဲ့အစည်း** Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** ခေါင်းလျှော်ရည်နှင့် ဆပ်ပြာ အမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ် ၁၁၆/A/၃ ရှိ မြေ(၄.၆၈၂) ဧက အနက် (၁.၀၀) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၄၆၁၄.၀၀သန်း (အမေရိကန်ဒေါ်လာ ၄.၁၂ သန်း အပါအဝင် စုစုပေါင်းကျပ်လေးထောင့်ခြောက်ရာတစ်ဆယ့်လေးသန်းခန့်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၃၄ /၂၀၁၄(မနသ)

၂၀၁၄ ခုနှစ် မေလ ၂၈ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)သည် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ် ၁၀၆/A ရှိ မြေ (၄.၆၈၂) ဧက အနက် မြေ (၁.၀၀) ဧက အား ငှားရမ်း၍ ခေါင်းလျှော်ရည်နှင့်ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၁၀-၄-၂၀၁၄) နေ့တွင် ကျင်းပ သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ( ၁၂/၂၀၁၄ ) အစည်းအဝေး၌ တင်ပြခဲ့ရာ "Shwe Ayer Nadi Limited အား ခေါင်းလျှော်ရည်နှင့် ဆပ်ပြာ အမျိုးမျိုး ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် သဘောတူကြောင်းနှင့် ပလတ်စတစ် စွန့်ပစ်ပစ္စည်းများ အတွက် Recycle Plan ရေးဆွဲတင်ပြလာပါက ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးရန် " ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ ဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပလတ်စတစ် စွန့်ပစ်ပစ္စည်းများအတွက် Recycle Plan ရေးဆွဲတင်ပြလာပါသဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်) အား ခေါင်းလျှော်ရည်နှင့် ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၈၀/၂၀၁၄ ကို ထုတ်ပေးလိုက်သည်။

၃။ Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေ အပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့် အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန်သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်းအမှန် တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင် တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန် ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန် အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဥ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက် နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ဈ)အရ လုပ်ငန်း တည်ဆောက်မှု ပြီးစီး၍ ပထမ(၃)နှစ် အတွက် ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရန် တင်သွင်းသည့် ကုန်ကြမ်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဥ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဈ) ဥပဒေပုဒ်မ ၂၀(ဋ)အရ ပြည်ပသို့ တင်ပို့ရန် ထုတ်လုပ်သည့် ပစ္စည်းများအပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင်တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှုစသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၅။ Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၆။ Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်း များကို သီးခြား ပြုစုထားရှိရမည်။

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် မြေအငှားချထားသူ ဦးဥက္ကာဝင်းနှင့် အငှား ချထားခြင်းခံရသူ Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)တို့ ချုပ်ဆိုမည့် မြေငှားစာချုပ်ကို လက်မှတ်ရေးထိုး၍ **ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ထမ်းဆောင်** ပြီးသည့်အခါ ယင်းသဘောတူ စာချုပ်မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။

၉။ Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရန်အတွက် ကုန်ကြမ်းပစ္စည်းများ စနစ်တကျ ထားသိုမှု၊ ရေဆိုးပြန်လည် သန့်စင်မှု၊ စွန့်ပစ်ပစ္စည်းများ စနစ်တကျ စီမံခန့်ခွဲမှုနှင့် မီးဘေး အန္တရာယ် ကြိုတင် စီမံခန့်ခွဲမှုများ၊ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ် အရည်များ စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့် လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan – EMP ) ရေးဆွဲ တင်ပြပြီး ဆောင်ရွက် ပြီးစီးမှုအခြေအနေကို ကော်မရှင် နှင့် သက်ဆိုင်ရာ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။ ထို့ပြင် အဆိုပြုလွှာတွင် ဖော်ပြထားသည့် Waste Water Treatment Plant တည်ဆောက်၍ ရေဆိုးစွန့်ပစ်ရာတွင် သတ်မှတ်စံချိန်စံညွှန်းနှင့်အညီ စွန့်ပစ်

ရမည်ဖြစ်ပြီး ပလတ်စတစ်စွန့်ပစ်ပစ္စည်းများ စီမံခန့်ခွဲရာတွင် Recycle Plan တွင် ရေးဆွဲ တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

၁၀။ Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)သည် အဆိုပြုလုပ်ငန်းအတွက် ကျပ်သန်း(၁၆၃၀၀)ကို ကမ္ဘောဇဘဏ် လီမိတက်ထံမှ ချေးငွေရယူဆောင်ရွက်မည်ဟု တင်ပြထားရာ ချေးငွေရယူခြင်းကိစ္စသည် ငွေချေးငှားသူ ကမ္ဘောဇဘဏ်လီမိတက်နှင့် ငွေချေးယူသူ Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)တို့၏ တာဝန်သာဖြစ်စေရမည်။

၁၁။ Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)သည် ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှုအရည်အသွေး၊ ဈေးကွက်ပိုင်းဆိုင်ရာတို့နှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာ ဌာနများ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၁၂။ Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)မှ အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင် နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်း ဇယားများ စနစ်တကျ ရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဉ်ဆောင်ရွက် ရမည်။

၁၃။ Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေး အန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက် ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများ အသုံးပြုတတ်စေရန်အတွက် သင်တန်းများ ပေးရမည်။

၁၄။ Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များမဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ထို့အပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊

လုပ်ထုံး လုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၅။ Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)သည် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ သက်ဆိုင်ရာ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင် ထားရှိ ဆောင်ရွက်ရမည်။

၁၆။ Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံ ရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ် ထားသော ပုံစံ ဇယားများဖြင့် (၃)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၈။ Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသောတည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်း မပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်းသို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင်တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲ ကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းသည်အထိ အရေးယူခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဝင်းရှိန်)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က)/မ-၁၄၁၀/၂၀၁၄(၅၅၁၉-၈)
ရက်စွဲ၊ ၂၀၁၄ ခုနှစ် မေလ ၂၈ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ကျန်းမာရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်မြို့

ဥက္ကဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှုမြှင့်တင်ရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

ဥက္ကဌ၊ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

ဥက္ကဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

အုပ်ချုပ်မှုဒါရိုက်တာ၊ Shwe Ayer Nadi Limited (ရွှေဧရာနဒီလီမိတက်)

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရတင်ပြလာသော

Shwe Ayer Nadi Limited ၏ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၇-၃-၂၀၁၄ | - | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့်တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၁၁-၃-၂၀၁၄ | ၁၉-၃-၂၀၁၄ | |
| | (ခ) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ | ၁၂-၃-၂၀၁၄ | ၃၀-၃-၂၀၁၄ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၂-၃-၂၀၁၄ | - | |
| | (ဃ) စက်မှုဝန်ကြီးဌာန | ၁၂-၃-၂၀၁၄ | ၂၄-၃-၂၀၁၄ | |
| | (င) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၁၄-၃-၂၀၁၄ | ၂၅-၃-၂၀၁၄ | |
| ၃။ | အဆိုပြုချက်အစည်းအဝေး(၁၃/၂၀၁၄) သို့ တင်ပြခြင်း | ၂၀-၃-၂၀၁၄ | | |
| ၄။ | ကုမ္ပဏီမှ သဘောထားမှတ်ချက်များနှင့် အညီ ပြင်ဆင်၍ ပြန်လည်တင်ပြခြင်း | - | ၃၁-၃-၂၀၁၄ | |
| ၅။ | ကုမ္ပဏီမှအဆိုပြုလွှာ(၁၀)စုံ လက်ခံရရှိခြင်း | ၅-၄-၂၀၁၄ | | |
| ၆။ | **စုစုပေါင်းကြာမြင့်ရက်** | **(၁၆)ရက်** | | |

# Shwe Ayer Nadi Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်တွင် ခေါင်းလျှော်ရည်နှင့် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့်အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Shwe Ayer Nadi Limited |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးထွန်းထွန်းဝင်း (အဘ- ဦးဗိနိုကူးမား) |
| ၃။ | အဖွဲ့အစည်းပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်) |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ခေါင်းလျှော်ရည်နှင့် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၅။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - ရန်ကုန်တိုင်းဒေသကြီး၊ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ် ၁၁၆-အေ/၃ ရှိ မြေ (၄.၆၈၂)ဧကအနက် မြေ (၁.၀၀)ဧက |
| ၆။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - **ကျပ် ၄၆၁၄.၀၀ သန်း( US$ ၄.၁၂ သန်းအပါအဝင်)** |
| | - ငွေသား | ကျပ် ၁၅၀.၀၀ သန်း |
| | - အဆောက်အဦ | ကျပ် ၈၃၈.၀၀ သန်း(US$ ၀.၄၂ သန်းအပါအဝင်) |
| | - စက်ပစ္စည်းကိရိယာများ | ကျပ် ၆၈၆.၀၀ သန်း(US$ ၀.၇၀ သန်း) |
| | - ကုန်ကြမ်းပစ္စည်းများ | ကျပ် ၂၉၄၀.၀၀ သန်း(US$ ၃.၀၀ သန်း) |
| ၇။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - (၂၀)နှစ် |
| ၈။ | တည်ဆောက်ရေးကာလ | - (၁)နှစ် |
| ၉။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်) | |
| | - ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၇၂၆.၅၇ သန်း |
| | - ဝင်ငွေခွန် | - ကျပ် ၂၇၃.၀၂ သန်း |
| ၁၀။ | ရောင်းချမည့်နည်းစနစ် | |
| | - ပြည်တွင်း | ၉၀% |
| | - ပြည်ပ | ၁၀% |
| ၁၁။ | ဝန်ထမ်းအင်အား | - ၂၀၀ ဦး (ပြည်တွင်း) |
| | | |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-၁၄၁၀/၂၀၁၄([illegible])

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဧပြီ လ ၇ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ တင်ပြသည့်

## အမှာစာ

အကြောင်းအရာ။ **Shwe Ayer Nadi Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်တွင် ခေါင်းလျှော်ရည်နှင့် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Shwe Ayer Nadi Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ် ၁၁၆-အေ/၃ ရှိ မြေ (၄.၆၈၂)ဧကအနက် မြေ (၁.၀၀)ဧကအား ငှားရမ်း၍ ခေါင်းလျှော်ရည်နှင့် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးထွန်းထွန်းဝင်း (အဘ- ဦးဗိုနိုကူးမား)မှ အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။ ယင်း အဆိုပြုချက်ကို အဆိုပြုချက် စိစစ်ရေးအဖွဲ့ ၏ ၁၃/၂၀၁၄ (၂၀-၃-၂၀၁၄) အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ ကနဦး (၂၀)နှစ် ဖြစ်ပြီး တစ်နှစ်လျှင် မြေငှားရမ်းခ ကျပ်(၂.၄၀)သန်းဖြင့် ပေးချေမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ US$ (၄.၁၂)သန်း အပါအဝင် စုစုပေါင်း ကျပ် (၄၆၁၄.၀၀) သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ US$ (၀.၇၀)သန်းဖိုးနှင့် ကုန်ကြမ်းများ US$(၃.၀၀)သန်းဖိုး ကို ပြည်ပမှ တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်-

| | | ကျပ်သန်း | |
|---|---|---|---|
| (က) | ငွေသား | ၁၅၀.၀၀ | |
| (ခ) | အဆောက်အဦ | ၈၃၈.၀၀ | (US$ ၀.၄၂ သန်း) |
| (ဂ) | စက်ပစ္စည်းကိရိယာ | ၆၈၆.၀၀ | (US$ ၀.၇၀ သန်း) |
| (ဃ) | ကုန်ကြမ်းပစ္စည်းများ | ၂၉၄၀.၀၀ | (US$ ၃.၀၀ သန်း) |

**စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် ၄၆၁၄.၀၀ သန်း (US$ ၄.၁၂ သန်း အပါအဝင်)**

၄။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်း မှ လုပ်သား (၂၀၀) ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် (၁၂၅၀၀၀) ဖြစ်ပါသည်။

ကန့်သတ်

၅။ အဆိုပြုလုပ်ငန်းသည် ခေါင်းလျှော်ရည်နှင့် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်မည် ဖြစ်ပြီး ပြည်တွင်းတွင် ၉၀% ရောင်းချ၍ ပြည်ပသို့ ၁၀% တင်ပို့ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ထုတ်လုပ်မှု နှင့် ပြည်တွင်း၊ ပြည်ပရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | ပစ္စည်း အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (Kg) | ပြည်တွင်း ရောင်းဈေးနှုန်း (ကျပ် /Kg ) | ပြည်ပ ရောင်းဈေးနှုန်း (US$/Kg) |
|---|---|---|---|---|
| ၁ | Soap Bar | ၇၅၀၀၀၀၀ | ၁၁၇၀ | ၁.၂၀ |
| ၂ | Soap Cream Tube/Soap Gel Tube | ၇၅၀၀၀၀၀ | ၉၃၆ | ၀.၉၆ |
| ၃ | Soap Noodles | ၃၀၀၀၀၀၀၀ | ၅၈၅ | ၀.၅၈ |
| ၄ | Shampoo Tube | ၂၅၀၀၀၀၀ | ၁၄၀၄ | ၁.၄၀ |
| ၅ | Shower Gel Tube | ၂၅၀၀၀၀၀ | ၁၄၀၄ | ၁.၄၀ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ၆ နှစ်မြောက်ပွင် ရရှိမည့် ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

အမေရိကန်တစ်ဒေါ်လာ = ၉၈၀ ကျပ်

| | | | US$ (သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်ငွေဖြင့် (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|---|---|
| (က) | ဝင်ငွေ | - | ၃.၇၅ | ၃၆၇၀.၁၀ | ၃၆၃၂၈.၅၀ | ၃၉၉၉၈.၆၀ |
| (ခ) | အသုံးစရိတ် | - | ၃၆.၀၉ | ၃၅၃၆၄.၂၈ | ၃၈၁၅.၂၇ | ၃၉၁၇၉.၅၅ |
| (ဂ) | အသားတင် အမြတ် | - | (၃၂.၃၄) | (၃၁၆၉၄.၁၈) | ၃၂၅၁၃.၂၃ | ၈၁၉.၀၅ |

၇။ နိုင်ငံတော်မှ ၆ နှစ်မြောက်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် (၂၇၃.၀၂) သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် (၇၂၆.၅၇)သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း ၏ အရင်းကြေကာလမှာ (၆)နှစ် နှင့် (၃)လ ဖြစ်ပြီး အရင်းအနှီး အပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၄) ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းအဆိုပြုလုပ်ငန်း နှင့် စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

**(က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ (နောက်ဆက်တွဲ - က)**

(၁) ရင်းနှီးမြှုပ်နှံမှုပြုမည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိကြောင်း၊

(၂) အဆိုပြုလုပ်ငန်း လည်ပတ်လုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၂၀)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်

အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊

(၃) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် မြေလွတ်ကို တစ်နှစ်အတွက် ကျပ်နှစ်ဆယ့်လေးသိန်း နှုန်းဖြင့် (၂၀)နှစ် +၅ နှစ် +၅ နှစ် စုစုပေါင်း(၃၀)နှစ် ငှားရမ်းလုပ်ကိုင်ခြင်း အပေါ်ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊

(၄) အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုမရှိအောင် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါကြောင်း၊

(၅) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၁၂/၂၀၁၄ (၂၅-၃-၂၀၁၄) ဆုံးဖြတ်ချက်အရ Shwe Ayer Nadi Limited ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ကန့်ကွက်ရန်မရှိပါကြောင်း၊

**(ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

- အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၃/၂၀၁၄ (၂၀-၃-၂၀၁၄) အစည်းအဝေးတွင် ထုတ်လုပ်မည့် ကုန်ချောထုတ်လုပ်မှု ၁၀ တန် အောက်ရှိသော လုပ်ငန်းများသည် သဘာဝ ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးအကဲဖြတ်ဆန်းစစ်လေ့လာခြင်း ( Initial Environmental Examination – IEE) ရေးဆွဲရမည် ဖြစ်ပြီး ၁၀ တန် ကျော်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA ) ရေးဆွဲရမည်ဖြစ်ကြောင်းဆွေးနွေးခဲ့ပါသည်။ ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ ညွှန်ကြားချက် နှင့်အညီ လိုက်နာ ဆောင်ရွက်မည် ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA ) ရေးဆွဲရန် အတွက် Resource and Environment Myanmar Ltd. သို့ အပ်နှံ ဆောင်ရွက်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုချက်တင်ပြထားပါသည်။

**(ဂ) စက်မှုဝန်ကြီးဌာန(နောက်ဆက်တွဲ- ဂ)**

(၁) လျှပ်စစ်သွယ်တန်း အသုံးပြုမှုအား လျှပ်စစ်ဥပဒေနှင့် အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(၂) လူ့အရေပြားနှင့် ကျန်းမာရေး ထိခိုက်မှု မဖြစ်ပေါ်စေရေးအတွက် ကျန်းမာရေးဦးစီးဌာန၏ ထောက်ခံချက်လိုအပ်ပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊

---

(၃) စက်စမ်းသပ်လည်ပတ်နိုင်ပါက ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊

(၄) ကုန်ကြမ်း စာရင်းတွင် Oil ဟုဖော်ပြထားသဖြင့် ဆပ်ပြာချက်လုပ်ရန် နှင့် ခေါင်းလျှော်ရည်ထုတ်လုပ်ရန် သုံးစွဲမည့် ကုန်ကြမ်းဆီအမည်အား ခွဲခြား ဖော်ပြရန် လိုအပ်ပါကြောင်း၊

(၅) ပြည်တွင်းတွင်ရရှိနိုင်သည့် ကုန်ကြမ်းပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူသုံးစွဲရန် လိုအပ်ပါကြောင်း၊

(၆) ထုတ်လုပ်မှု နှင့် စက်ပစ္စည်း၊ ဝန်ထမ်းအင်အား ဆီလျော်မှု ရှိပါကြောင်း၊

**[ကုမ္ပဏီ မှ စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက် အရ လျှပ်စစ်သွယ်တန်း အသုံးပြုမှုအား လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးမှုများ ပြုလုပ်သွားမည်ဖြစ်ကြောင်း၊ လူ့အရေပြားနှင့် ကျန်းမာရေး ထိခိုက်မှု မဖြစ်ပေါ် စေရေး အတွက် ကျန်းမာရေး ဦးစီးဌာန၏ ညွှန်ကြားချက်နှင့် အညီ ဆောင်ရွက်မည် ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ ညွှန်ကြားချက်နှင့် အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ စက်စမ်းသပ်လည်ပတ်နိုင်ပါက ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေ နှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်မည်ဖြစ်ကြောင်း ၊ ဆပ်ပြာ(Soap Noodles ) ချက်လုပ်ရာတွင် အဓိကကုန်ကြမ်းအနေဖြင့် Crude Oil ကို သုံးစွဲမည်ဖြစ်ကြောင်း၊ နိုင်ငံတကာအဆင့်မီ ကုန်ကြမ်းပစ္စည်းများ သုံးစွဲမည်ဖြစ်၍ ကုန်ကြမ်းများအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပါကြောင်း ပြန်လည် ရှင်းလင်း တင်ပြထားပါသည်။]**

(ဃ) **မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း (နောက်ဆက်တွဲ- ဃ)**

အဆိုပြုလွှာပါ ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများအား အောက်ပါအတိုင်း ထောက်ခံတင်ပြပါကြောင်း-

| စဉ် | အမျိုးအမည် | အဆိုပြုလွှာပါ အရေအတွက် (တန်) | BQ တွင် ပါဝင်သော အရေအတွက် (တန်) | ထောက်ခံတင်ပြသော အရေအတွက် (တန်) |
|---|---|---|---|---|
| ၁ | ဘိလပ်မြေ | ၂၅၀၀ | ၁၄၂၄.၄ | ၁၄၂၄.၄ |
| ၂ | သံချောင်းလုံး အရှယ်စုံ | ၃၈၀ | ၁၂၁ | ၁၂၁ |
| ၃ | သံနှင့်သံထည် ပစ္စည်း | ၁၇၄ | ၁၇၄ | ၁၁၇ |

**( ကုမ္ပဏီမှ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ သဘောထားမှတ်ချက်နှင့်အညီ ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများအရည်အတွက်အား ပြင်ဆင် တင်ပြပြီး ဖြစ်ပါသည် )**

၉။ လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီး လျှပ်စစ်ဓါတ်အား မရရှိချိန်တွင် ကိုယ်ပိုင်မီးစက် Generator (3000)KVA ဖြင့် သုံးစွဲမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၀။ ငွေကြေး အထောက်အထားအဖြစ် ချေးငွေကျပ်သန်း(၁၆၃၀၀) ချေးယူထားကြောင်း ကမ္ဘောဇဘဏ်၏ (၁၃-၁၂-၂၀၁၃)နေ့ ရက်စွဲဖြင့် ထောက်ခံစာ တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း၊ လျှပ်စစ် သွယ်တန်း အသုံးပြုမှုအား လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးမှုများ ပြုလုပ်မည်ဖြစ် ကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်မည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွား စေရန် အတွက် လိုအပ်သော အစီအမံများ၊ Waste Water Treatment Plant တပ်ဆင်အသုံးပြုမည့် အစီအမံများ၊ မီးဘေးအန္တရာယ် မဖြစ်ပွားစေရန် နှင့် မီးဘေး ကြိုတင် ကာကွယ်ရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၂။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အသားတင် အမြတ်ငွေ မှ ၁% ကို Cooperate Social Responsibility (CSR) ရန်ပုံငွေအဖြစ် လျာထားအသုံးပြုမည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြ လျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

၁၄။ သို့ဖြစ်ပါ၍ Shwe Ayer Nadi Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာ မြို့နယ်တွင် ခေါင်းလျှော်ရည်နှင့် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း အပေါ် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
ရုံးလက်ခံ




နောက်ဆက်တွဲ (က)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၂ / ၃ - ၆ (၅) / စီးပွား
ရက် စွဲ ၊၂၀၁၄ ခုနှစ်၊ မတ် လ ၃၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂. ၃. ၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက - ၆ (က) / မ - ၁၄၁၀ / ၂၀၁၄ (၂၆၉၆)

၁။ Shwe Ayer Nadi Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၁)၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ် ၁၁၆-အေ/၃ ရှိ မြေ(၄. ၆၈၂)ဧကအနက် မြေ(၁. ၀၀) ဧကအား ငှားရမ်း၍ ခေါင်းလျှော်ရည်နှင့် ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထား မှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းစာဖြင့် ညှိနှိုင်းအကြောင်းကြား လာခြင်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြား အပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါ။

(ခ) အဆိုပြုလုပ်ငန်း လည်ပတ်လုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၂၀)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက်အထောက်အကူ ဖြစ်စေပါသည်၊

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် မြေလွတ်ကို တစ်နှစ်အတွက် ကျပ်နှစ်ဆယ့်လေးသိန်းနှုန်းဖြင့် (၂၀)နှစ်+၅ နှစ်+၅နှစ် စုစုပေါင်း နှစ်(၃၀) ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်၊

(ဃ) အဆိုပြုလုပ်ငန်း လုပ်ကိုင်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုမရှိအောင် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2014/Lesson/12.,12

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၂၅. ၃. ၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၂ / ၂၀၁၄)၊ ဆုံးဖြတ်ချက်အပိုဒ် (၉၆)အရ Shwe Ayer Nadi Limited. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ကန့်ကွက်ရန် မရှိကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးသစ်တောနှင့်စွမ်းအင်ဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
ရွှေပြည်သာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
Shwe Ayer Nadi Limited.
လက်ခံစာတွဲ
မျှောစာတွဲ

D/2014/Lesson/12.,13



# SHWE AYER NADI LIMITED

No. 184 (B), Thein Byu Road, Botataung Township, Yangon, Myanmar. Tel: (951) 204007

စာအမှတ် ။ ။ SAN - 0011/04/2014

ရက်စွဲ ။ ။၂၀၁၄ ခုနှစ်၊ ဧပြီလ (၅) ရက်

သို့



ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်။

အကြောင်းအရာ ။ ။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန မှ တောင်းခံထားသော EIA ကိုရေးဆွဲပေးပို့မည် ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း။**

ကျွန်တော်များ Shwe Ayer Nadi Ltd သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ ရွှေပြည်သာစက်မှုဇုန်၊ မြေတိုင်း ရပ်ကွက် အမှတ် (၄၂)၊ မြေကွက်အမှတ် ၁၁၆-အေ/၃ တွင် ခေါင်းလျှော်ရည်နှင့် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြပြီးဖြစ်ပါသည်။

ကျွန်တော်များကုမ္ပဏီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခေါင်းလျှော်ရည် နှင့် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်တင်ပြခြင်းနှင့် စပ်လျဉ်း၍ EIA ကို ရေးဆွဲ၍ ပြန်လည်တင်ပြပေးရန် အကြောင်းကြားလာပါသည်။

သို့ဖြစ်ပါ၍ EIA ကို Resource And Environment Myanmar Ltd (Address-B702 Delta Plaza, Shwegonding Rd, Bahan, Yangon, Myanmar) တွင်ရေးဆွဲ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြမည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုပါသည်။

လေးစားစွာဖြင့်

Tun Tun Win
Managing Director
Shwe Ayer Nadi Ltd.



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၃-၂၀၁၄(၈၃၁၀)
ရက် စွဲ၊ ၂၀၁၄ ခုနှစ် မတ် လ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၂.၃.၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၄၁၀/၂၀၁၄(၂၆၉၇)

၁။ Shwe Ayer Nadi Limited သည် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၄၂)၊ မြေကွက်အမှတ် ၁၁၆-အေ/၃ တွင် ခေါင်းလျှော်ရည်နှင့် ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ခေါင်းလျှော်ရည်နှင့် ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုအား လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီစစ်ဆေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဂ) လူ့အရေပြားနှင့်ကျန်းမာရေးထိခိုက်မှုမဖြစ်ပေါ်စေရေးအတွက် ကျန်းမာရေးဦးစီးဌာန၏ ထောက်ခံချက်လိုအပ်ပြီး ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) စက်စမ်းသပ်လည်ပတ်နိုင်ပါက ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းပစ္စည်းစာရင်းတွင် Oil ဟု ဖော်ပြထားပါသဖြင့် ဆပ်ပြာချက်လုပ်ရန်နှင့် ခေါင်းလျှော်ရည်ထုတ်လုပ်ရန် သုံးစွဲမည့်ကုန်ကြမ်းဆီအမည်အား ခွဲခြားဖော်ပြရန် လိုအပ်ပါသည်။

(စ) ပြည်တွင်း၌ ရရှိနိုင်သည့် ကုန်ကြမ်းပစ္စည်းများအား ပြည်တွင်းမှပင် ဝယ်ယူသုံးစွဲရန် လိုအပ်ပါသည်။

(ဆ) ထုတ်လုပ်မှုနှင့် စက်ပစ္စည်း၊ ဝန်ထမ်းအင်အား ဆီလျော်မှုရှိပါသည်။

၃။ သို့ပါ၍ Shwe Ayer Nadi Limited မှ ခေါင်းလျှော်ရည်နှင့် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၄.၃.၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန
ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း